အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mottama Logistics Co., Ltd. မှ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ဆိပ်ခံတံတားမှ ကုန်သေတ္တာ တင်/ချ ခြင်း၊ ကုန်သေတ္တာသိုလှောင်ခြင်း နှင့် ထိန်းသိမ်းပို့ဆောင်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Mottama Logistics Co., Ltd.<br>- ဒေါ်ရှောက်ဖွေ<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ဆိပ်ခံတံတားမှ ကုန်သေတ္တာ တင်/ချ ခြင်း၊ ကုန်သေတ္တာသိုလှောင်ခြင်းနှင့် ထိန်းသိမ်းပို့ဆောင်ခြင်း |
| ၂။ | တည်နေရာ | - မြေတိုင်းရပ်ကွက် အမှတ်-၃၉(စက်မှု)၊ မြေကွက်အမှတ်-၁၂၄(A,B)၊ ဆိပ်ကမ်းသာလမ်း၊ စက်မှုဇုံအပိုင်း(၂)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်<br>နှစ်စဉ်မြေငှားရမ်းခ<br>မြေ/အဆောက်အဦငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဦးရန်ဟော်<br>- ၂.၇၁၅ ဧက<br>-<br>- ၁ စတုရန်းမီတာလျှင် USS ၂.၅ နှုန်း<br>- ၅၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်မည့်မတည်ငွေရင်း<br>ငွေသား<br>အဆောက်အဦဆောက်လုပ်မှု<br>ကုန်ကျစရိတ်<br>စက်နှင့်စက်ပစ္စည်း(ပြည်တွင်း)<br>**စုစုပေါင်း** | - **ကျပ် ၈,၄၅၅.၂၄၂ သန်း**<br>ကျပ်(သန်း)<br>၂၅၀.၀၀၀<br>၆,၉၅၁.၃၇၂<br><br>၁,၂၅၃.၈၇၀<br>**၈,၄၅၅.၂၄၂** |



Salient

| | | |
|---|---|---|
| ၇။ | ဝန်ဆောင်မှုနှင့် ဝန်ဆောင်ခနှုန်း | - ပြည်တွင်း ၁၀၀ %<br>**စဉ်** **အမျိုးအမည်** **ယူနစ်** **ဈေးနှုန်း(ကျပ်)**<br>(က) General Cargo Ton ၂,၂၅၀<br>(ခ) Container-20' (Directly Delivery) Nos ၄၅,၀၀၀<br>(ဂ) Track Services Ton ၁,၅၀၀<br>(ဃ) Container Yard Charges-20' Nos ၃၀,၀၀၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** / **ပြည်ပ**<br>**ဦးရေ** ၁၀၇ ဦး / မရှိပါ။<br>**အမြင့်ဆုံးလစာ** ကျပ် ၃,၀၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ** ကျပ် ၁၅၀,၀၀၀ |
| ၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် ရှေ့ဝတီဘဏ်တွင် ဒေါ်ရှောက်ဖွေ အမည်ဖြင့် ၁၂-၇-၂၀၁၈ ရက်စွဲတွင် ကျပ် ၅၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- အတည်ပြုလျှောက်ထားလွှာနှင့်အတူ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန၏ လုပ်ငန်း ခွင့်ပြုချက်၊ မြေပိုင်ရှင် ဦးရန်ဟော်နှင့် Mottama Logistics Co.,Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ Mottama Logistics Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင် ကဒ်(မိတ္တူ)၊ MOA & AOA နှင့် မြေပိုင်ဆိုင်မှုအထောက်အထား များအား ပူးတွဲတင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင် ချိရေး အစီအစဉ်များ၊ မီးဘေးလုံခြုံရေးစီမံချက်၊ သဘာဝပတ် ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များ ကို တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ အ-၀၃၁/ ၂၀၁၈(၂၄၅)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇူလိုင် လ ၁၄ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mottama Logistics Co., Ltd. မှ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ဆိပ်ခံတံတားမှ ကုန်သေတ္တာ တင်/ချ ခြင်း၊ ကုန်သေတ္တာသိုလှောင်ခြင်း နှင့် ထိန်းသိမ်းပို့ဆောင်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mottama Logistics Co., Ltd. မှ မြေတိုင်းရပ်ကွက်အမှတ်-၃၉(စက်မှု)၊ မြေကွက်အမှတ်-၁၂၄(A,B)၊ ဆိပ်ကမ်းသာလမ်း၊ စက်မှုဇုံအပိုင်း(၂)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၇၁၅ ဧကပေါ်တွင် ဆိပ်ခံတံတားမှ ကုန်သေတ္တာ တင်/ချခြင်း၊ ကုန်သေတ္တာသိုလှောင်ခြင်း နှင့် ထိန်းသိမ်းပို့ဆောင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ လုပ်ငန်းခွင့်ပြုချက်၊ မြေပိုင်ရှင် ဦးရန်ဟော်နှင့် Mottama Logistics Co.,Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ Mottama Logistics Co., Ltd. ၏ ကုမ္ပဏီမှတ် ပုံတင်ကဒ်(မိတ္တူ)၊ MOA & AOA နှင့် မြေပိုင်ဆိုင်မှုအထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၃။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာကျပ် ၈,၄၅၅.၂၄၂ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **ကျပ်(သန်း)** |
|---|---|
| ငွေသား | ၂၅၀.၀၀၀ |
| အဆောက်အဦ | ၆,၉၅၁.၃၇၂ |
| စက်နှင့်စက်ပစ္စည်း(ပြည်တွင်း) | ၁,၂၅၃.၈၇၀ |
| **စုစုပေါင်း** | **၈,၄၅၅.၂၄၂** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၁၀၇ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းခန့်ထားခြင်း မရှိပါ။

၅။ အတည်ပြုလုပ်ငန်းမှ ပထမနှစ်တွင် ဝန်ဆောင်မှုပေးမည့် အမျိုးအမည်၊ ယူနစ်နှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ယူနစ် | ဈေးနှုန်း(ကျပ်) |
|---|---|---|---|
| (က) | General Cargo | Ton | ၂,၂၅၀ |
| (ခ) | Container-20' (Directly Delivery) | Nos | ၄၅,၀၀၀ |
| (ဂ) | Track Services | Ton | ၁,၅၀၀ |
| (ဃ) | Container Yard Charges-20' | Nos | ၃၀,၀၀၀ |

၆။ အတည်ပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနသို့ ၁၇-၇-၂၀၁၈ ရက်နေ့တွင် သဘောထားမှတ်ချက် တောင်းခံထားပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် ရောဝတီဘဏ်တွင် ဒေါ်ရောက်ဖွေ အမည်ဖြင့် ၁၂-၇-၂၀၁၈ ရက်စွဲတွင် ကျပ် ၅၀၀,၀၀၀ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များ၊ မီးဘေးလုံခြုံရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mottama Logistics Co., Ltd. မှ ဆိပ်ခံတံတားမှ ကုန်သေတ္တာ တင်/ချခြင်း၊ ကုန်သေတ္တာသိုလှောင်ခြင်းနှင့် ထိန်းသိမ်းပို့ဆောင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုတင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ